Inn Pauk Wa Co., Ltd. မှ ကြယ်သုံးပွင့်အဆင့်ရှိ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၅-၅-၂၀၁၅ | - | - |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရခိုင်ပြည်နယ်အစိုးရအဖွဲ့ | ၁၁-၅-၂၀၁၅ | ၃၁-၅-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တော ရေးရာဝန်ကြီးဌာန | ၁၁-၅-၂၀၁၅ | ၂၀-၅-၂၀၁၅ | |
| | (ဂ) ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန | ၁၁-၅-၂၀၁၅ | ၂၂-၅-၂၀၁၅ | |
| | (ဃ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၁၂-၅-၂၀၁၅ | ၂-၆-၂၀၁၅ | |
| ၃။ | PAT (၁၆/၂၀၁၅)အစည်းအဝေး တင်ပြခြင်း | ၁၁-၅-၂၀၁၅ | | |
| ၄။ | PAT အစည်းအဝေးဆုံးဖြတ်ချက်အား ကုမ္ပဏီသို့ ပြန်ကြားသည့် ရက်စွဲ | ၂၂-၅-၂၀၁၅ | | |
| ၅။ | ကုမ္ပဏီမှ အဆိုပြုလွှာ(၇)စုံ ပြင်ဆင်ပေးပို့ခြင်း | | ၃၀-၆-၂၀၁၅ | |
| ၆။ | ကော်မရှင်အစည်းအဝေးအကြိမ် | ၁၃/၂၀၁၅ | | |
| ၇။ | **စုစုပေါင်းကြာမြင့်ရက်** | **(၅၇)ရက်** | | |

ကုမ္ပဏီအမည် - Inn Pauk Wa Co., Ltd.
အဖွဲ့အစည်းပုံသဏ္ဌာန် - ရခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု
လုပ်ငန်းအမျိုးအစား - ကြယ်သုံးပွင့်အဆင့်ရှိ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း
တည်နေရာ - ဦးပိုင်အမှတ် (က/၁၁၊ဆ/၁/၁၀) ၊ပန်လင်တော၊ အကွက်အမှတ် (၃၉)၊ကျေးပင်ကြီးရပ်ကွက်၊ စစ်တွေမြို့၊ ရခိုင်ပြည်နယ်ရှိ မြေ (၀.၃၉၂) ဧက
စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - ကျပ် ၅၃၃၈.၂၆ သန်း (US$ ၄.၅၆ သန်းအပါအဝင်)
လုပ်ငန်းသက်တမ်း - ကနဦး နှစ် (၅၀) နှင့် နောက်ထပ် (၁၀)နှစ် (၂)ကြိမ်
အရင်းကြေကာလ - ၄ နှစ် နှင့် ၁၁လ
IRR - ၁၈.၀၅ %

အထက်ပါ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၁၆ (၁ နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၂၁၆.၇၅ | |
| ၄ | ဝင်ငွေခွန် | ၁၀၂၀.၂၉ | ၅၀၈၉.၄၉ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၁၆၈၀.၀၀ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၁၅၁.၁၁ |
| ၇ | မြေအသုံးချမှုပရီမီယံကြေး | - | - |
| ၈ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ၇၇.၂၅ |
| ၉ | CSR (၂%) | | ၂၄၀.၇၃ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း (၃၀၇)ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| | စုစုပေါင်း | ၁၂၃၉.၂၀ | ၇၁၉၉.၇၅ |
| | Cost : Benefit | ၁:၆ | |

## Inn Pauk Wa Co., Ltd. မှ ရခိုင်ပြည်နယ်၊ စစ်တွေမြို့နယ်တွင် ကြယ်သုံးပွင့်အဆင့်ရှိ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့် နှင့် စပ်လျဥ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Inn Pauk Wa Co., Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးဦးဘိုးသိန်း (အဘ- ဦးစောထွန်းအောင်) |
| ၃။ | အဖွဲ့အစည်းပုံသဏ္ဍာန် | - လီမိတက်ကုမ္ပဏီ (Private Company ဖြစ်ပါသည်။) |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ကြယ်သုံးပွင့်အဆင့်ရှိ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း |
| ၅။ | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - ဦးပိုင်အမှတ် (က/၁၁၊ဆ/၁/၁၀)၊ အကွက်အမှတ်(၃၉)၊ ပန်လင်တော၊ ကျေးပင်ကြီးရပ်ကွက်၊ စစ်တွေမြို့နယ်၊ ရခိုင်ပြည်နယ်ရှိမြေ (၀.၃၉၂)ဧက (၁၅၈၆.၃၆၉ စ/မီတာ) |
| ၆။ | မြေအထောက်အထား | - Inn Pauk Wa Co., Ltd. မှ ပိုင်ဆိုင်သည့် မြေဖြစ်ကြောင်း အထောက်အထားအဖြစ် မြေစာရင်းပုံစံ (၁၀၅) ပူးတွဲ တင်ပြထားပါသည်။ |
| ၇။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏ | **- ကျပ် ၅၃၃၈.၂၆ သိန်း (US$ ၄.၅၆ သိန်း အပါအဝင်)** |
| | - ငွေပမာဏ | ကျပ် ၅၀၀.၀၀ သိန်း |
| | - မြေ | ကျပ် ၁၁.၈၀ သိန်း |
| | - မော်တော်ယာဥ် | ကျပ် ၁၃၇.၇၅ သိန်း (US$ ၀.၁၅ သိန်း) |
| | - လုပ်ငန်းသုံးပစ္စည်း | ကျပ် ၂၂၀.၀၂ သိန်း (US$ ၀.၂၃ သိန်း) |
| | - အဆောက်အဦ | ကျပ် ၁၈၀၆.၅၆ သိန်း (US$ ၁.၃၈ သိန်း) |
| | - စက်ပစ္စည်းနှင့်လျှပ်စစ်ပစ္စည်းများ | ကျပ် ၂၆၆၂.၁၃ သိန်း (US$ ၂.၈၀ သိန်း) |
| ၈။ | ပြည်ပမှ အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်းလိုသည့် ပစ္စည်းများစာရင်း | - US$ ၂.၈၀ သိန်း တန်ဖိုးရှိ စက်ပစ္စည်းနှင့်လျှပ်စစ်ပစ္စည်းများ များ၊ US$ ၀.၂၃ သိန်းတန်ဖိုးရှိ လုပ်ငန်းသုံးပစ္စည်းများနှင့် US$၁.၃၈ သိန်း တန်ဖိုးရှိ ဆောက်လုပ်ရေးသုံးပစ္စည်းများကို ပြည်ပမှ တင်သွင်း မည်ဖြစ်ပြီး US$ ၀.၁၅ သိန်းတန်ဖိုးရှိ မော်တော် ယာဥ်များကို အခွန်ပေးဆောင် တင်သွင်းမည် ဖြစ်ပါသည်။ |
| ၉။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | ကနဦး နှစ်(၅၀) နှင့် နောက်ထပ် (၁၀)နှစ်(၂)ကြိမ် |
| ၁၀။ | တည်ဆောက်ရေးကာလ | (၂) နှစ် |
| ၁၁။ | ဝန်ဆောင်ခနှုန်း နှင့် နှစ်စဥ်ဝန်ဆောင်မှု (၆)နှစ်မြောက် | (see table below) |

| စဥ် | အခန်း အမျိုး အစား | အခန်း အရေ အ တွက် (ခန်း) | ဝန်ဆောင် နိုင်မည့် အခန်း (%) | | ဝန်ဆောင်ခနှုန်း | |
|---|---|---|---|---|---|---|
| | | | US$ | ကျပ် | US$ | ကျပ် |
| (က) | Superior Room | ၉၅ | ၆၀ % | ၃၀ % | ၈၅ | ၆၀၀၀၀ |
| (ခ) | Executive Room (Type A) | ၅ | ၆၀ % | ၃၀ % | ၁၀၀ | ၇၅၀၀၀ |
| (ဂ) | Executive Room (Type B) | ၁၀ | ၆၀ % | ၃၀ % | ၉၀ | ၆၅၀၀၀ |
| | စုစုပေါင်း | ၁၁၀ | | | | |

| | | |
|---|---|---|
| ၁၂။ | ဝင်ငွေ (၆)နှစ်မြောက် ဝင်ငွေအား ကောက်နှုတ် တင်ပြထားခြင်းဖြစ်ပါသည်။ | - ကျပ် ၁၀၈၉.၄၅ သန်း<br>US$ ၃.၀၇ သန်း |
| ၁၃။ | အသားတင်အမြတ် | - ကျပ် ၁၃၂၆.၅၅ သန်း |
| ၁၄။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (၆ နှစ်မြောက်)<br>ဝင်ငွေခွန် ၂၅%<br>ကုန်သွယ်လုပ်ငန်းခွန် ၅% | <br><br>- ကျပ် ၅၀၈.၉၅ သန်း<br>- US$ ၀.၁၅ သန်း<br>- ကျပ် ၅၄.၄၇ သန်း |
| ၁၅။ | အရင်းကြေကာလ | - ၄ နှစ်နှင့် ၁၁ လ |
| ၁၆။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၈.၀၅ % |
| ၁၇။ | လုပ်သားအင်အား<br>- ပြည်တွင်း<br>- ပြည်ပ | <br>- ၃၁၇ ဦး<br>- ၃ ဦး (ပြည်တွင်းမှ အနိမ့်ဆုံး ဝန်ထမ်း(၁)ဦး၏ လစာမှာ တစ်လလျှင် ကျပ် ၁၂၀,၀၀၀ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်း တစ်ဦး ၏ လစာမှာ တစ်လလျှင် ကျပ် ၆၀၀၀၀၀ဖြစ်ပါသည်။ပြည်ပမှအနိမ့်ဆုံးဝန်ထမ်း (၁)ဦး၏ လစာမှာ တစ်လလျှင် US$ ၁၅၀၀ ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ တစ်လလျှင် US$ ၂၀၀၀ ဖြစ်ပါသည်။) |
| ၁၈။ | ငွေကြေးအထောက်အထား | - နိုင်ငံခြားငွေအထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် မြန်မာနိုင်ငံခြား ကုန်သွယ်မှုဘဏ်ရှိ (၃၁-၃-၂၀၁၅) ရက်နေ့လက် ကျန်ငွေ US$ ( ၃,၀၈၄.၉၉ ) တင်ပြထား သဖြင့် သုံးစွဲမည့် အမေရိကန်ဒေါ်လာ၄.၅၆ သန်း အတွက် ၀.၀၇ % တင်ပြထားကြောင်းစိစစ် တွေ့ရှိရ ပါသည်။<br>ကျပ်ငွေ အထောက်အထားအဖြစ် GTB Ltd.ရှိ MD ဦးဦးဘိုးသိန်း၊ ဦးဘိုမောင်ကြီးနှင့် ဦးမြသိန်းတို့၏ အမည်ဖြင့် (၃၁-၁၂-၂၀၁၄)နေ့ လက်ကျန် ကျပ် ၄၀၄၂၁၉၂၇.၁၈ နှင့် YOMA Bank ရှိ Inn Pauk Wa Co.,Ltd. အမည်ဖြင့် (၁၉-၉-၂၀၁၄) ရက်နေ့ ငွေလက်ကျန် ကျပ် ၂၀၉၇၅၀ စုစုပေါင်း ကျပ် ၄၀၆၃၁၆၇၇.၁၈ တင်ပြထားသဖြင့် သုံးစွဲမည့် ကျပ် ၁၀၀၃.၁၆သန်းအတွက် ၄.၀၅ % ရှိကြောင်းတင်ပြထား ပါသည်။ |
| ၁၉။ | မီးဘေး ကာကွယ်ထားရှိမှု အစီအစဥ် | - မီးဘေးအန္တရာယ်မဖြစ်ပွားစေရန်အတွက် ကြိုတင်ကာကွယ် တားဆီးမှု အစီအမံများ တင်ပြထားပါသည်။ |
| ၂၀။ | ကုမ္ပဏီမှဆောင်ရွက်မည့် CSR | - နှစ်စဉ်အသားတင်အမြတ်၏ ၂ % အား သဘာဝပတ်ဝန်းကျင် |

ထိန်းသိမ်းပြုပြင်ရေး၊ စက်ရုံပတ်ဝန်းကျင်ရှိ ရပ်ကွက်များ သာရေးနာရေး၊ စာသင်ကျောင်းများဘက်စုံဖွံ့ဖြိုးတိုးတက်ရေးနှင့်ပရဟိတလုပ်ငန်းများအတွက် အသုံးပြုသွားမည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၂၀။ ကော်မရှင်ရုံးအဖွဲ့မှ စိစစ်တင်ပြချက်

- ရခိုင်ပြည်နယ်တွင် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အရ အောက်ပါကုမ္ပဏီ (၂) ခုအား ခွင့်ပြုမိန့် ထုတ်ပေး ခဲ့ပြီး Adventure Myanmar Tours & Incentives Co., Ltd. အား ကော်မရှင်၏ ၁၂/၂၀၁၅ (၃-၇-၂၀၁၅) ကြိမ်မြောက် ဆုံးဖြတ်ချက်အရ ခွင့်ပြုမိန့်ထုတ်ပေးရန်ဆောင်ရွက်လျက်ရှိပါ သည်-

| စဉ် | ကုမ္ပဏီအမည်/ ခွင့်ပြု မိန့်အမှတ် | လုပ်ငန်း အမျိုးအစား | တည်နေ ရာ | ရင်းနှီး မြှုပ်နှံမှု ပမာဏ |
|---|---|---|---|---|
| (၁) | ပုဂံသံတဲ ဟိုတယ် အုပ်စု ကုမ္ပဏီ လီမိတက် မနသ- ၇၀၁/ ၂၀၀၉ (၃၀-၆-၀၉) | နိုင်ငံပိုင်မြေကို ငှားရမ်း၍ BOTစနစ်ဖြင့် ဟိုတယ်လုပ်ငန်းဆောင်ရွက်ခြင်း | ကာကွယ်ရေးဝန်ကြီး ဌာန၊ စစ်ထောက်ချုပ် ရုံးပိုင် ကွင်းအမှတ် (VT-40) မြပြင်ကျေးရွာ၊ သံတွဲမြို့နယ်၊ ရခိုင်ပြည်နယ်၊ ငပလီကမ်းခြေရှိ မြေ ၅.၂၀ ဧက | ကျပ် ၁၃၅၆.၂၇ သန်း |
| (၂) | Eden Hotels & Resort Co., Ltd မနသ-(၁၀၂၃/ ၂၀၁၅) (၇-၁-၂၀၁၅) | B.O.Tစနစ် Thingaha (Ngapali) အမည်ဖြင့် ကြယ်ငါးပွင့် အဆင့်ရှိနိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း | ကာကွယ်ရေးဝန်ကြီး ဌာန၊ စစ်ထောက်ချုပ် ရုံးပိုင် ကွင်းအမှတ် (၂၀၂)၊မြေကွက်အမှတ် (၆)၊ ဇီးဖြူကုန်း ကျေးရွာ၊ သံတွဲမြို့နယ်၊ သံတွဲ ခရိုင်၊ ရခိုင်ပြည်နယ်၊ ငပလီကမ်းခြေရှိမြေ ၆.၆၁ဧက | ကျပ် ၁၈၂၈၅.၇၇ သန်း (US$၉.၂၁ သန်း အပါအဝင်) |
| (၃) | Adventure Myanmar Tours & Incentives Co., Ltd. | B.O.Tစနစ် ဖြင့်ကြယ်လေးပွင့်အဆင့်ရှိ နိုင်ငံတကာ အဆင့်မီ | ကာကွယ်ရေးဝန်ကြီး ဌာန၊ စစ်ထောက်ချုပ် ရုံးပိုင် ကွင်းအမှတ် | ကျပ် ၄၂၀၀ သန်း (US$ ၁.၁၉ သန်းအပါအဝင်) |

| | | | | | |
|---|---|---|---|---|---|
| | | | | ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း | (၂၀၂)၊ဗိုးမြို့ကုန်းကျေးရွာ၊ သံတွဲမြို့နယ်၊ သံတွဲ ခရိုင်၊ ရခိုင်ပြည်နယ်၊ ငပလီကမ်းခြေ ရှိမြေ ၄.၃၃ဧက | |

- အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ တင်သွင်းမည့် အောက်ဖော်ပြပါ မော်တော်ယာဥ်(၆)စီးအား အခွန်အကောက် ပေးဆောင်၍ တင်သွင်းမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည် -

| စဉ် | အမျိုးအမည် | အရေအတွက် (စီး) | တစ်စီးနှုန်း (US$) | တန်ဖိုး (US$) | တန်ဖိုး (ကျပ်သန်း) |
|---|---|---|---|---|---|
| (၁) | HiaceVan (Toyota) | ၃ | ၃၀၀၀၀ | ၉၀၀၀၀ | ၈၅.၅၀ |
| (၂) | Alphard (Toyota) | ၁ | ၂၅၀၀၀ | ၂၅၀၀၀ | ၂၃.၇၅ |
| (၃) | Townace | ၂ | ၁၅၀၀၀ | ၃၀၀၀၀ | ၂၈.၅၀ |

- ကားစီးရေ (၃၀) စီးရပ်နားနိုင်သော Car Parking အား ထည့်သွင်း တည်ဆောက်မည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၄/မ- ၁၄၈၀/၂၀၁၅( ၅၁၇ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇူလိုင် လ ၁၅ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Inn Pauk Wa Co., Ltd. မှ ရခိုင်ပြည်နယ်၊ စစ်တွေမြို့နယ်တွင် ကြယ်သုံးပွင့် အဆင့်ရှိ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြခြင်းကိစ္စ**

၁။ Inn pauk Wa Co., Ltd. မှ ဦးပိုင်အမှတ် (က/၁၁၊ဆ/၁/၁၀)၊ အကွက်အမှတ်(၃၉)၊ ပန်လင်တော၊ ကျေးပင်ကြီးရပ်ကွက်၊ စစ်တွေမြို့နယ်၊ ရခိုင်ပြည်နယ်ရှိမြေ (၀.၃၉၂)ဧကတွင် အထပ် ၉ထပ်ရှိအခန်း (၁၁၀)ပါကြယ်သုံးပွင့်အဆင့်ရှိ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဦးဘိုးသိန်း (အဘ-ဦးစောထွန်းအောင်) မှ အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၅ ခုနှစ် မေလ ၁၁ ရက်နေ့တွင် ကျင်းပပြုလုပ်သော အဆိုပြုချက် စိစစ်ရေး အဖွဲ့၏ (၁၆/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၂။ Inn pauk Wa Co.,Ltd. မှ ပိုင်ဆိုင်သော ဘိုးဘွားပိုင်မြေတွင် အဆိုပြု လုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်မည်ဖြစ်သဖြင့် မြေပိုင်ဆိုင်မှု အထောက်အထားအဖြစ် မြေစာရင်း ပုံစံ (၁၀၅) ကိုတင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ ကနဦး(၅၀)နှစ် နှင့် နောက်ထပ် (၁၀)နှစ် (၂)ကြိမ်ဖြစ်ပြီး တည်ဆောက် ရေးကာလမှာ (၂)နှစ် ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ(၄.၅၆)သန်း အပါအဝင်စုစုပေါင်း ကျပ် (၅၃၃၈.၂၆)သန်း ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ (၂.၈၀) သန်းတန်ဖိုးရှိ စက်ပစ္စည်းနှင့်လျှပ်စစ်ပစ္စည်းများ၊အမေရိကန်ဒေါ်လာ(၀.၂၃)သန်းတန်ဖိုးရှိ လုပ်ငန်းသုံးပစ္စည်းများ၊ အမေရိကန် ဒေါ်လာ(၁.၅၃)သန်း တန်ဖိုးရှိ ဆောက်လုပ်ရေးသုံး လုပ်ငန်းပစ္စည်းနှင့် မော်တော်ယာဉ်များကို ပြည်ပမှ တင်သွင်းမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | | |
|---|---|---|---|---|
| (က) | ငွေပမာဏ | ကျပ် | ၅၀၀.၀၀ သန်း | |
| (ခ) | မြေ | ကျပ် | ၁၁.၈၀ သန်း | |
| (ဂ) | မော်တော်ယာဉ် | ကျပ် | ၁၃၇.၇၅ သန်း | (US$ ၀.၁၅ သန်း ) |
| (ဃ) | လုပ်ငန်းသုံးပစ္စည်း | ကျပ် | ၂၂၀.၀၂ သန်း | (US$ ၀.၂၃ သန်း ) |
| (င) | အဆောက်အဦ | ကျပ် | ၁၈၀၆.၅၆သန်း | (US$ ၁.၃၈ သန်း ) |
| (စ) | စက်ပစ္စည်းနှင့်လျှပ်စစ်ပစ္စည်းများ | ကျပ် | ၂၆၆၂.၁၃ သန်း | (US$ ၂.၈၀ သန်း ) |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ်** | **၅၃၃၈.၂၆ သန်း** | **(US$ ၄.၅၆ သန်းအပါအဝင်)** |

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်း ဝန်ထမ်း (၃၁၇)ဦးနှင့် ပြည်ပဝန်ထမ်း (၃) ဦးခန့်ထားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံး ဝန်ထမ်း(၁)ဦး၏ လစာမှာ တစ်လလျှင်ကျပ် ၁၂၀၀၀၀ ဖြစ်ပြီး အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏လစာမှာ တစ်လလျှင်ကျပ် ၆၀၀၀၀၀ ဖြစ်ပါသည်။ ပြည်ပမှ အနိမ့်ဆုံး ဝန်ထမ်း(၁)ဦး၏ လစာမှာ တစ်လ လျှင် US$ ၁၅၀၀ ဖြစ်ပြီး အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏လစာမှာ တစ်လလျှင် US$ ၂၀၀၀ ဖြစ်ပါသည်။

၆။ အဆိုပြု ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းမှ ဟိုတယ်အခန်းများ ငှားရမ်းခြင်းမှ ဝင်ငွေရရှိမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ် (၆)နှစ်မြောက်တွင် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှုအခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအစား | ဝန်ဆောင်မှုပေးမည့် အခန်း အရေအတွက် (ခန်း) | ဝန်ဆောင်နိုင်မည့် အခန်း (%) | | ဝန်ဆောင်ခနှုန်း | |
|---|---|---|---|---|---|---|
| | | | US$ | ကျပ် | US$ | ကျပ် |
| (က) | Superior Room | ၉၅ | ၆၀ % | ၃၀ % | ၈၅ | ၆၀၀၀၀ |
| (ခ) | Executive Room (Type A) | ၅ | ၆၀ % | ၃၀ % | ၁၀၀ | ၇၅၀၀၀ |
| (ဂ) | Executive Room (Type B) | ၁၀ | ၆၀ % | ၃၀ % | ၉၀ | ၆၅၀၀၀ |
| | စုစုပေါင်း | ၁၁၀ | | | | |

၇။ အဆိုပြုလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့်ဝင်ငွေနှင့်အသုံး စရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

အမေရိကန်တစ်ဒေါ်လာ=၉၅၀ ကျပ်

| စဉ် | အကြောင်းအရာ | US$ (သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်(သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | ၃.၀၇ | ၂၉၁၆.၅၀ | ၁၀၈၉.၄၅ | ၄၀၀၅.၉၅ |
| (ခ) | အသုံးစရိတ် | ၀.၂၁ | ၁၉၉.၅၀ | ၂၄၇၉.၉၀ | ၂၆၇၉.၄၀ |
| (ဂ) | အသားတင်အမြတ် | ၂.၈၆ | ၂၇၁၇.၀၀ | (-)၁၃၉၀.၄၅ | ၁၃၂၆.၅၅ |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ်(၆နှစ်မြောက်)တွင်ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် US$ ၀.၁၅သန်း၊ ကျပ် ၅၄.၄၇ သန်းနှင့် ဝင်ငွေခွန် ကျပ် ၅၀၈.၉၅ သန်း ရရှိမည်ဖြစ်ပါသည်။လုပ်ငန်း၏အရင်းကြေကာလမှာ (၄)နှစ်နှင့်(၁၁)လဖြစ်ပြီးအရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၈.၀၅ % ဖြစ်ပါသည်။

၉။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊အဖွဲ့အစည်းများသို့ သဘောထားများတောင်းခံခဲ့ရာ တစ်ဖက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) ရခိုင်ပြည်နယ်အစိုးရအဖွဲ့ **(နောက်ဆက်တွဲ-က)**

(၁) Inn Pauk Wa Co., Ltd. ၏အဆိုပြုလုပ်ငန်းအား အစိုးရအဖွဲ့၏အစည်းအဝေးအမှတ်စဉ် (၇/၂၀၁၅) ဆုံးဖြတ်ချက်အရ ကန့်ကွက်ရန်မရှိပါကြောင်း။

**(ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာ ဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)**

(၁) အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေးထိခိုက်မှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းတစ်ခုချင်းစီ အလိုက်လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များ အသုံးပြုရန် နှင့်အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှုအတွက်အမြတ်ငွေ၏ ၂% အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအားလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၂) စီမံကိန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းလမ်း နှင့် အစီအမံများ ထည့်သွင်းဆောင်ရွက်ရန်။

(၃) မိလ္လာအညစ်အကြေးများ စွန့်ထုတ်မှုလုပ်ငန်းစနစ်များ၊ ရေဆိုးပြန်လည်သန့်စင်မှုလုပ်ငန်းများ၊ အစိုင်အခဲစွန့်ပစ်ပစ္စည်းများ စီမံခန့်ခွဲမှု ၊ရေရယူ အသုံးပြုမှုနှင့် ရေစီမံခန့်ခွဲမှုစနစ်များ၊ လေထု၊ ရေထု ညစ်ညမ်းမှုနှင့် အသံဆူညံမှုကာကွယ်ရေးစီမံချက်များနှင့် စွမ်းအင်ပြန်လည်အသုံးပြု ထိန်းသိမ်းရေး စနစ်များ ထည့်သွင်း ဆောင်ရွက်ရန်။

(၄) အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေ ရေး(သို့မဟုတ်) အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) ဆောင်ရွက်ပြီး အစီရင်ခံစာ ရေးဆွဲတင်ပြရန်။

(၅) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်းနှင့် စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာ မည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan —EMP) ရေးဆွဲတင်ပြ၍ စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၆) သတ်မှတ်ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များ လုပ်ထုံးလုပ်နည်းများ၊ စည်ပင်သာယာရေးဥပဒေ၊ နည်းဥပဒေ၊ညွှန်ကြားချက်များလုပ်ထုံးလုပ်နည်းများ၊ဟိုတယ်နှင့် ခရီးသွားလာ

ရေးလုပ်ငန်းဥပဒေ၊နည်းဥပဒေ၊ ညွှန်ကြားချက်များ လုပ်ထုံးလုပ်နည်းများနှင့် အညီလိုက်နာ အကောင်အထည် ဖော်ဆောင်ရွက်ရန်။

**(ကုမ္ပဏီမှ အထက်ပါ သဘောထားမှတ်ချက်နှင့်အညီ ပတ်ဝန်းကျင်ဆိုင်ရာ ကနဦး လေ့လာခြင်း ( Initial Environmental Examination - IEE ) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုစီမံချက်( Environmental Management Plan - EMP) ရေးဆွဲရန် စီစဉ်နေပါကြောင်း တင်ပြထားပါသည်)**

(ဂ) **ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန (နောက်ဆက်တွဲ-ဂ)**

(၁) ဟိုတယ်ငှားရမ်းခ နှုန်းထားများနှင့် အသုံးပြုမည့်ပစ္စည်းများ၊ပေးအပ်မည့်ဝန်ဆောင်မှုများ လျော်ကန်သင့်တင့်ရန် လိုအပ်ကြောင်း။

(၂) အဆိုပြုလွှာတွင်တင်ပြထားသည့် အဆောက်အဦသည် Basement အပါအဝင် ( ၉ )ထပ် အဆောက်အဦဖြစ်၍ အဆိုပါ အထပ်မြင့် ဆောက်လုပ်ခြင်းအပေါ်တွင် ပတ်ဝန်းကျင်အနေအထား၊ အခြားဆောက်အဦနှင့်လုပ်ငန်းများ တည်ရှိမှုတို့အပေါ်တွင် ပြည်နယ်အစိုးရအဖွဲ့၏ သဘောထားမှတ်ချက် ရယူရန် လိုအပ်မည်ဖြစ်ကြောင်း။

(၃) လုပ်ငန်းစီမံကိန်းအတွက် အသုံးပြုမည့်ပစ္စည်းများကိုပြည်ပမှ တင်သွင်းမည်ဆိုပါကအခွန်သက်သာခွင့်မှာ ကော်မရှင်၏ အဆုံးအဖြတ်သာရယူရမည်ဖြစ်ကြောင်း။

(၄) ဟိုတယ်တည်ဆောက်ရေး၊ အခန်းများဖွဲ့စည်းရေးနှင့် လိုအပ်သော Facilities များထည့်သွင်းရေးအတွက် မြန်မာနိုင်ငံ ဟိုတယ်နှင့် ခရီးသွားလာရေး ဥပဒေ၊ မြန်မာနိုင်ငံခရီးသွားလာရေးဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ၊ ဟိုတယ်နှင့်တည်းခိုရိပ်သာလုပ်ငန်းလိုင်စင်ဆိုင်ရာ အမိန့်များပါဝင်သော ဟိုတယ်တည်ဆောက်ရေးဆိုင်ရာ အခြေခံလိုအပ်ချက်နှင့် စံနှုန်းများ (Basic Requirements and Criteria ) ထက် မနိမ့်ကျစေရန်အတွက် အဆိုပါဥပဒေအမိန့်များကိုကြိုတင်ရယူလေ့လာ၍ ဆောင်ရွက်သွားရန်လိုအပ်ပါကြောင်း။

(၅) ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ရရှိပြီးပါက မြန်မာနိုင်ငံဟိုတယ်နှင့်ခရီးသွားလာရေး ဥပဒေနှင့်အညီ ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုမိန့် လျှောက်ထားရယူရန်လိုအပ်ပါကြောင်း။

**(ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန၏ သဘောထားနှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။)**

(ဃ) **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း (နောက်ဆက်တွဲ-ဃ)**

(၁) ရခိုင်ပြည်နယ်၊စစ်တွေမြို့တွင် တည်ဆောက်မည့် ဟိုတယ်အဆောက်အဦ တည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်

ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း။

(၂)အဆောက်အဦ အပိုင်းတွင် အဓိကဆောက်လုပ်ရေး ပစ္စည်းများဖြစ်သော Structural Steel ကို ပြည်ပမှ တင်သွင်းခြင်းမပြုဘဲပြည်တွင်းမှသာ ဝယ်ယူ၍ ဆောက်လုပ်မည်ဖြစ်ကြောင်း။

(၃)အဆောက်အဦအပိုင်းတွင် ပြည်ပမှတင်သွင်းမည့် အောက်ပါ ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ထောက်ခံပါကြောင်း-

| စဉ် | ပစ္စည်းအမျိုးအမည် | အဆိုပြုလွှာပါ အရေအတွက် (တန်) | BQ တွင်ပါဝင်သော အရေအတွက် (တန်) | ထောက်ခံတင်ပြသောအရေအတွက် (တန်) |
|---|---|---|---|---|
| (ကက) | Cement | ၅၅၀၀ | ၆၅၄၉ | **၂၀၈၂** |
| (ခခ) | Rebar | ၇၂၀ | ၈၁၇ | **၇၂၀** |
| (ဂဂ) | Paint | ၂၅၀၀ ဂါလံ | ၄၀၀၀ ဂါလံ | **၁၂၇၄ ဂါလံ** |

(၃) ယခုတင်ပြထားသောပုံစံ၊ ဒီဇိုင်းများသည် အမှန်တကယ် အသေးစိတ်တည်ဆောက် မည့်ပုံစံ၊ ဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက် ထားသော ပစ္စည်းအရေအတွက်များမှာ အမှန်တကယ် သုံးစွဲမည့် အရေအတွက်နှင့် ကွာခြားနိုင်ပါကြောင်း၊ သို့အတွက် လိုအပ်ပါက Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည်စိစစ်မှုများ ဆောင်ရွက်ရန်လိုအပ်ပါကြောင်း။

(၄) သက်ဆိုင်ရာ မီးသတ်ဦးစီးဌာနမှ ချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်း လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း။

၁၀။ အဆိုပြုလုပ်ငန်းအတွက် နိုင်ငံခြားငွေ အထောက်အထားအဖြစ် ကုမ္ပဏီ အမည်ဖြင့် MFTB တွင် (၃၁-၃-၂၀၁၅)နေ့ရှိ ငွေလက်ကျန် US$ (၀.၀၀၃၁) သန်းတင်ပြထားပါသဖြင့် သုံးစွဲမည့် အမေရိကန်ဒေါ်လာ၄.၅၆ သန်း အတွက် ၀.၀၇ % တင်ပြထားကြောင်းစိစစ်တွေ့ရှိရပါသည်။ မြန်မာကျပ်ငွေ အထောက်အထားအဖြစ် YOMA Bank တွင် ကုမ္ပဏီအမည်ဖြင့် (၁၉-၉-၂၀၁၄)နေ့ရှိ လက်ကျန်ငွေ ကျပ် ၂၀၉၇၅၀ နှင့်GTB Ltd တွင် (၃၁-၁၂-၂၀၁၄)နေ့ရှိ ကျပ်ငွေ ၄၀၄၂၁၉၂၇.၁၈၊ စုစုပေါင်း ကျပ်ငွေ ၄၀၆၃၁၆၇၇.၁၈ ကို တင်ပြထားသဖြင့် သုံးစွဲမည့် ကျပ် ၁၀၀၃.၁၆သန်းအတွက် ၄.၀၅ % ရှိကြောင်းတင်ပြထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ နိုင်ငံတော်အစိုးရမှမြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းချက်များကို လိုက်နာမည်ဖြစ်ကြောင်း၊ မီးဘေးကာကွယ်ထားရှိမှု အစီအမံများ ဆောင်ရွက်ထားရှိမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၂။ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းများသက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေး အစီအစဉ်များနှင့် CSR အဖြစ် အသားတင်အမြတ်၏ ၂ ရာခိုင်နှုန်းကို အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ လျှပ်စစ်ဓါတ်အားသုံးစွဲမှုအတွက် မဟာဓါတ်အားလိုင်းမှရယူသုံးစွဲမည့်အပြင် ကိုယ်ပိုင်ဂျင်နရေတာဖြင့်လည်း အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ စ၊ ဆ၊ ဈ၊ ည) အရအခွန်အကောက်ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့်များကို ကော်မရှင်သို့တင်ပြလျှောက်ထားလာလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

၁၅။ **စိစစ်တင်ပြချက်**

(က) ရခိုင်ပြည်နယ်တွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အောက်ပါကုမ္ပဏီ (၂) ခုအား ခွင့်ပြုမိန့်ထုတ်ပေးခဲ့ပြီး Adventure Myanmar Tours & Incentives Co., Ltd.အား ကော်မရှင်၏ (၁၂/၂၀၁၅) (၃-၇-၂၀၁၅)ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အရ ခွင့်ပြုမိန့်ထုတ်ပေးရန် ဆောင်ရွက်လျက်ရှိပါသည် -

| စဉ် | ကုမ္ပဏီအမည်/ ခွင့်ပြုမိန့်အမှတ် | လုပ်ငန်းအမျိုးအစား | တည်နေရာ | ရင်းနှီးမြှုပ်နှံမှု ပမာဏ |
|---|---|---|---|---|
| (၁) | ပုဂံသံတဲ ဟိုတယ်အုပ်စု ကုမ္ပဏီလီမိတက် မနသ-၇၀၁/၂၀၀၉ (၃၀-၆-၂၀၀၉) | နိုင်ငံပိုင်မြေကို ငှားရမ်း ၍ BOT စနစ်ဖြင့် ဟိုတယ် လုပ်ငန်း ဆောင်ရွက်ခြင်း | ကာကွယ်ရေးဝန်ကြီး ဌာနစစ်ထောက်ချုပ် ရုံးပိုင် ကွင်းအမှတ် (VT-40) မြပြင်ကျေးရွာ၊ သံတွဲမြို့နယ်၊ ရခိုင်ပြည်နယ်၊ ငပလီကမ်းခြေရှိ မြေ ၅.၂၀ ဧက | ကျပ် ၁၃၅၆.၂၇ သန်း |
| (၂) | Eden Hotels & Resort Co., Ltd မနသ-(၁၀၂၃/ ၂၀၁၅) (၇-၁-၂၀၁၅) | B.O.Tစနစ်ဖြင့် Thingaha(Ngapali) အမည်ဖြင့်ကြယ်ငါးပွင့် အဆင့်ရှိနိုင်ငံတကာ အဆင့် မီဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း | ကာကွယ်ရေးဝန်ကြီး ဌာန၊ စစ်ထောက်ချုပ် ရုံးပိုင် ကွင်းအမှတ် (၂၀၂)၊မြေကွက်အမှတ် (၆)၊ ဇီးဖြူကုန်းကျေးရွာ၊ သံတွဲမြို့နယ်၊ သံတွဲ ခရိုင်၊ ရခိုင်ပြည်နယ်၊ ငပလီကမ်းခြေရှိ မြေ ၆.၆၀ဧက | ကျပ် ၁၈၂၈၅.၇၇ သန်း (US$ ၉.၂၀ သန်း အပါအဝင်) |
| (၃) | Adventure Myanmar Tours & Incentives Co., Ltd. | B.O.T စနစ် ကြယ်လေး ပွင့်အဆင့်ရှိ နိုင်ငံတကာ အဆင့်မီဟိုတယ် ဝန်ဆောင် မှုလုပ်ငန်း | ကာကွယ်ရေးဝန်ကြီး ဌာနစစ်ထောက်ချုပ် ရုံးပိုင် ကွင်းအမှတ် (၂၀၂)၊ဇီးဖြူကုန်းကျေး ရွာ၊ သံတွဲမြို့နယ်၊ သံတွဲ ခရိုင်၊ရခိုင်ပြည်နယ်၊ ငပလီကမ်းခြေရှိမြေ ၄.၃၃ ဧက | ကျပ် ၄၂၀၀ သန်း (US$ ၁.၁၉ သန်း အပါအဝင်) |

(ခ) အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ တင်သွင်းမည့် အောက်ဖော်ပြပါ မော်တော်ယာဉ် (၆)စီးအား အခွန်အကောက် ပေးဆောင်၍ တင်သွင်းမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည် -

| စဉ် | အမျိုးအမည် | အရေအတွက် (စီး) | တစ်စီးနှုန်း (US$) | တန်ဖိုး (US$) | တန်ဖိုး (ကျပ် သန်း) |
|---|---|---|---|---|---|
| (၁) | HiaceVan (Toyota) | ၃ | ၃၀၀၀၀ | ၉၀၀၀၀ | ၈၅.၅၀ |
| (၂) | Alphard (Toyota) | ၁ | ၂၅၀၀၀ | ၂၅၀၀၀ | ၂၃.၇၅ |
| (၃) | Townace | ၂ | ၁၅၀၀၀ | ၃၀၀၀၀ | ၂၈.၅၀ |

(ဂ) ကားစီးရေ(၃၀)စီးရပ်နားနိုင်သော Car Parking အား ထည့်သွင်းတည်ဆောက်ထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ Inn Pauk Wa Co., Ltd. မှ ဦးပိုင်အမှတ် (က/၁၁၊ဆ/၁/၁၀)၊ အကွက်အမှတ်(၃၉)၊ ပန်လင်တော၊ ကျေးပင်ကြီးရပ်ကွက်၊ စစ်တွေမြို့နယ်၊ ရခိုင်ပြည်နယ်တွင် ကြယ်သုံးပွင့်အဆင့်ရှိ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် တင်ပြလာခြင်းအပေါ် သဘောတူ - မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို -
ရုံးလက်ခံ။

နောက်ဆက်တွဲ-က

M3-547
816




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ရခိုင်ပြည်နယ်

စာအမှတ်၊ (၈၅၆) /၄ /၇-၃(စီးပွား) /အဖရ(ရခိုင်)
ရက် စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၃၁ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၁-၅-၂၀၁၅)ရက်စွဲပါ စာအမှတ်၊ ရက - ၄/ မ -၁၄၈၀ / ၂၀၁၅(၃၅၀)

အင်းပေါက်ဝကုမ္ပဏီလီမိတက် (Inn Pauk Wa Co,Ltd)မှ ရခိုင်ပြည်နယ်၊ စစ်တွေမြို့နယ်၊ ကျေးပင်ကြီးရပ်ကွက်၊ အကွက်အမှတ်(၃၉)၊ ပန်လင်တောအကွက်၊ ဦးပိုင်အမှတ် (က/ ၁၀၊ ဆ/ ၁ / ၁၀)ရှိမြေပေါ်တွင် နိုင်ငံတကာအဆင့်မီ (ကြယ်သုံးပွင့်)ဟိုတယ်လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုနိုင်ပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဘိုးသိန်း (ဘ) ဦးစောထွန်းအောင်မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာမှုနှင့်ပတ်သက်၍ ရခိုင်ပြည်နယ်အစိုးရအဖွဲ့အနေဖြင့် သဘောထားမှတ်ချက်ပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာမှုအပေါ် ရခိုင်ပြည်နယ်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၇/၂၀၁၅)ဆုံးဖြတ်ချက်အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

(မောင်မောင်အုန်း)
ပြည်နယ်ဝန်ကြီးချုပ်

မိတ္တူကို
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ နေပြည်တော်
လက်ခံစာတွဲ
မျှောစာတွဲ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
# ပြည်ထောင်စုဝန်ကြီးရုံး

M3-510
2515

စာအမှတ် ၃(၁)/၁၁(ဃ)(ဖ)/( ၅၀၂ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ မေလ ၁ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁ - ၅ - ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၄ / မ - ၁၄၈၀ / ၂၀၁၅ ( ၃၅၂ )

၁။ အင်းပေါက်ဝကုမ္ပဏီလီမိတက်မှ ရခိုင်ပြည်နယ်၊ စစ်တွေမြို့နယ်၊ ကျေးပင်ကြီးရပ်ကွက်၊ အကွက်အမှတ်(၃၉)၊ ပန်လင်တော၊ ဦးပိုင်အမှတ်( က/၁၀၊ ဆ/၁/၁၀ )တွင် နိုင်ငံတကာအဆင့်မီ ( ကြယ်သုံးပွင့် ) ဟိုတယ်လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ သဘာဝပတ်ဝန်းကျင် ထိခိုက်မှု ရှိ - မရှိ နှင့် လုပ်ငန်းဆောင်ရွက်ရန် သင့် - မသင့် စသည့် အချက်များအပေါ် စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ အဆိုပါနိုင်ငံတကာအဆင့်မီ(ကြယ်သုံးပွင့်) ဟိုတယ်လုပ်ငန်းဆောင်ရွက်လိုခြင်း ကိစ္စနှင့် ပတ်သက်၍ စီစစ်ရာတွင် မြေသားများ ပြုပြင်ဖော်ထုတ်ခြင်းကြောင့် ထွက်ရှိလာသည့် အမှုန်အမွှားများ၊ ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊ လုပ်ငန်းသုံးစက် နှင့် ယာဉ်ယန္တရားများ၏ ဆူညံသံများကြောင့် အသံညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊ စွန့်ပစ်ပစ္စည်းများကြောင့် ရေထု၊ လေထု၊ မြေထုညစ်ညမ်း မှုများ ဖြစ်ပေါ်စေနိုင်ပါသည်။

၃။ ထို့ပြင် မည်သူမဆို သစ်တောနယ်မြေ နှင့် သစ်တောဖုံးလွှမ်းလျက်ရှိသော အစိုးရက စီမံခန့်ခွဲခွင့်ရှိသော မြေအတွင်း ဖွံ့ဖြိုးမှုလုပ်ငန်း (သို့အဟုတ်) စီးပွားရေး ၊ စီမံကိန်းလုပ်ငန်း တစ်ရပ်ရပ်ကို လုပ်ကိုင်ဆောင်ရွက်လိုလျှင် ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ ကြိုတင်ခွင့်ပြုချက်ကို ရယူရမည်ဟု သစ်တောဥပဒေပုဒ်မ ၁၂(က) အရ ပြဋ္ဌာန်းထားပါသဖြင့် အဆိုပြု မြေနေရာတွင် သစ်ပင်သစ်တော ပေါက်ရောက်ဖုံးလွှမ်းမှုရှိပါက ဥပဒေနှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ အင်းပေါက်ဝကုမ္ပဏီလီမိတက်မှ ရခိုင်ပြည်နယ်၊စစ်တွေမြို့နယ်၊ ကျေးပင်ကြီးရပ်ကွက်၊ အကွက်အမှတ် ( ၃၉ )၊ ပန်လင်တော၊ ဦးပိုင်အမှတ် ( က / ၁၀ ၊ ဆ / ၁ / ၁၀ ) တွင် နိုင်ငံတကာအဆင့်မီ (ကြယ်သုံးပွင့်) ဟိုတယ်လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း နှင့် ပတ်သက်၍ တစ်ဘက်ပါ အတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းတစ်ခုချင်းစီအလိုက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအသုံးပြုရန် နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility - CSR ) အတွက် အမြတ်ငွေ၏ ( ၂ % )အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) မိလ္လာအညစ်အကြေးစွန့်ထုတ်မှု လုပ်ငန်းစနစ်များ ၊ အညစ်အကြေး သန့်စင်မှုလုပ်ငန်းစနစ်များ ၊ ရေဆိုးပြန်လည် သန့်စင်မှုလုပ်ငန်းစနစ်များ ၊ အစိုင်အခဲစွန့်ပစ်ပစ္စည်းများစီမံခန့်ခွဲမှု ၊ ရေရယူအသုံးပြုမှု နှင့် ရေစီမံခန့်ခွဲမှုစနစ်များ ၊ လေထု ညစ်ညမ်းမှု၊ ရေထုညစ်ညမ်းမှု နှင့် အသံဆူညံမှုကာကွယ်ရေး စီမံချက်များ နှင့် စွမ်းအင်ပြန်လည် အသုံးပြုထိန်းသိမ်းရေး စနစ်များကို ထည့်သွင်းရေးဆွဲဆောင်ရွက်ရန်၊

(ဂ) အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination- IEE) ကိုဆောင်ရွက်ပြီး IEE အစီရင်ခံစာရေးဆွဲတင်ပြရန်၊

(ဃ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း နှင့် စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်များ ၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ် ၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan - EMP ) ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်းအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူလူထုတို့၏ ဆန္ဒ နှင့် သဘောထားမှတ်ချက် ရယူဆောင်ရွက်ရန်၊

(စ) သတ်မှတ်ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များ ၊ လုပ်ထုံးလုပ်နည်းများ ၊ စည်ပင်သာယာရေး ဥပဒေ ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ ဟိုတယ်နှင့်ခရီးသွားလုပ်ငန်း

ဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ် ၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ် ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ် ၊ သစ်တောဦးစီးဌာန

နောက်ဆက်တွဲ-ဂ






**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန**

**ဝန်ကြီးရုံး**

စာအမှတ်၊ ၁၈ ဂ ၂၀၁၅/(၂)/ နပတ ( ၁၇၀၆ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ မေ လ ၂၂ ရက်။

NPI-2939
22-5-15

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၁-၅-၂၀၁၅) ရက်စွဲပါ စာအမှတ် ရက- ၄/မ-၁၄၈၀/၂၀၁၅(၃၅၁)

၁။ အင်းပေါက်ဝကုမ္ပဏီလီမိတက် (Inn Pauk Wa Co.,Ltd) မှ ရခိုင်ပြည်နယ်၊ စစ်တွေမြို့နယ်၊ကျေးပင်ကြီးရပ်ကွက်၊အကွက်အမှတ်(၃၉)၊ပန်လင်တောဦးပိုင်အမှတ် (က/၁၀၊ ဆ/၁/၁၀)တွင် နိုင်ငံတကာအဆင့်မီ (ကြယ်သုံးပွင့်) ဟိုတယ်လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဦးဘိုးသိန်း(အဘ-ဦးစောထွန်းအောင်) မှ အဆိုပြုတင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ လက်ရှိအခြေအနေတွင် မြန်မာနိုင်ငံသို့ ကမ္ဘာလှည့်ခရီးသည်များ အပါအဝင် နိုင်ငံခြားသားဧည့်သည်များတိုးတက်ဝင်ရောက်လာခြင်း၊ ခရီးစဉ်ဒေသအသီးသီးကိုလည်း တိုးတက်လည်ပတ်ခြင်းနှင့် အနာဂတ်ကာလမျှော်မှန်းချက်အရခရီးသည်ပိုမိုရောက်ရှိမည်ဖြစ်ပြီး၊ ယခုဟိုတယ်လုပ်ငန်း ဆောင်ရွက်မည့် စစ်တွေမြို့တွင် ဟိုတယ် (၈) လုံး၊ အခန်းပေါင်း (၁၇၂) ခန်းရှိရာ ခရီးစဉ်ဒေသတစ်ခုအနေနှင့် လုံလောက်သော နိုင်ငံတကာအဆင့်မီ ဟိုတယ်၊ အခန်းများရှိရန်လိုအပ်ပါသောကြောင့် စုစုပေါင်း အခန်း(၁၁၀)ခန်းပါ ဟိုတယ်လုပ်ငန်းတည်ဆောက်အကောင်အထည်ဖော်ဆောင်ရွက်မည့် လုပ်ငန်းစီမံကိန်းဖြစ်သည့်အတွက် ကန့်ကွက်ရန်မရှိကြောင်း တင်ပြအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ ဝန်ကြီးဌာနအနေနှင့်ဝန်ဆောင်ခနှုန်းထားများနှင့် ဟိုတယ်လုပ်ငန်းဆိုင်ရာများနှင့် စပ်လျဉ်း၍အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) အင်းပေါက်ဝကုမ္ပဏီလီမိတက် (Inn Pauk Wa Co.,Ltd)မှငှားရမ်းမည့် အခန်းခနှုန်းထားတွင် Superior Room အမျိုးအစား(၁)ခန်းလျှင်အမေရိကန်ဒေါ်လာ (၈၅) (သို့) မြန်မာကျပ်ငွေ (၅၀၀၀၀)၊ExecutiveRoomTypeAအမျိုးအစား(၁)ခန်းလျှင်အမေရိကန်ဒေါ်လာ(၁၀၀)(သို့) မြန်မာကျပ်ငွေ (၆၅၀၀၀)၊ Executive Room Type B အမျိုးအစား(၁)ခန်းလျှင် အမေရိကန်ဒေါ်လာ(၉၀)(သို့) မြန်မာကျပ်ငွေ(၅၅၄၀၀)နှုန်းစသည်ဖြင့်သတ်မှတ်ထားသဖြင့်ငှားရမ်းခနှုန်းထားများနှင့် အသုံးပြုမည့်ပစ္စည်းများ၊ ပေးအပ်မည့်ဝန်ဆောင်မှုများလည်းလျော်ကန်သင့်တင့် ရန်လိုအပ်ပါသည်။

(ခ) အဆိုပြုလွှာတွင်တင်ပြထားသည့်အဆောက်အဦသည် Basement အပါအဝင် (၉)ထပ်အဆောက်အဦဖြစ်ကြောင်းတွေ့ရှိရသဖြင့် အဆိုပါအထပ်မြင့်ဆောက်လုပ်ခြင်းအပေါ်တွင်ပတ်ဝန်းကျင်အနေအထား၊ အခြားအဆောက်အဦနှင့် လုပ်ငန်းများတည်ရှိမှုတို့အပေါ်တွင် ပြည်နယ်အစိုးရအဖွဲ့၏ သဘောထားမှတ်ချက်ရယူရန်လိုအပ်မည်ဖြစ်ပါသည်။

(ဂ ) အင်းပေါက်ဝကုမ္ပဏီလီမိတက်(Inn Pauk Wa Co.,Ltd) မှ ဆောင်ရွက်မည့်လုပ်ငန်းစီမံကိန်းအတွက် အသုံးပြုသွားမည့် ပစ္စည်းများကို ပြည်ပမှတင်သွင်းမည်ဆိုပါက ကုန်ပစ္စည်းများအပေါ် အခွန်သက်သာခွင့်မှာ ကော်မရှင်၏အဆုံးအဖြတ်သာရယူရမည်ဖြစ်ပါသည်။

(ဃ) ဟိုတယ်တည်ဆောက်ရေး အခန်းများဖွဲ့စည်းရေးနှင့် လိုအပ်သော Facilities များထည့်သွင်းရေးအတွက် မြန်မာနိုင်ငံဟိုတယ်နှင့်ခရီးသွားလာရေးဥပဒေ၊ မြန်မာနိုင်ငံခရီးသွားလာရေးဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ၊ ဟိုတယ်နှင့်တည်းခိုရိပ်သာလုပ်ငန်းလိုင်စင်ဆိုင်ရာအမိန့်များပါဝင်သော ဟိုတယ်တည်ဆောက်ရေးဆိုင်ရာ အခြေခံလိုအပ်ချက်နှင့်စံနှုန်းများ ( Basic Requirements and Criteria ) ထက်မနိမ့်ကျစေရေးအတွက်အဆိုပါဥပဒေအမိန့်များကိုကြိုတင်ရယူလေ့လာ၍ဆောင်ရွက်သွားရန်လိုအပ်ပါသည်။

(င) ရင်းနှီးမြှုပ်နှံခွင့်ပြုမိန့်ရရှိပြီးပါက မြန်မာနိုင်ငံဟိုတယ်နှင့်ခရီးသွားလာရေးဥပဒေနှင့် အညီ ဟိုတယ်လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့်ကိုဤဝန်ကြီးဌာနသို့ ဆက်လက်လျှောက်ထားရယူသွားရန်လိုအပ်ပါကြောင်းကိုလည်းတင်ပြအပ်ပါသည်။

၂၂-၅-၂၀၁၅

( ဦးဌေးအောင် )

ပြည်ထောင်စုဝန်ကြီး

မိတ္တူကို

ရုံးလက်ခံ

မျှော

နောက်ဆက်တွဲ-ဃ




# မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
# MYANMAR ENGINEERING SOCIETY

**Hlaing Universities' Campus, Hlaing Township, Yangon, Myanmar**
**Tel : 95-1-519673 ~ 76, Fax : 95-1-519681**
**E-mail:mes@mptmail.net.mm, Website: www.mes.org.mm**


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မအသ / MIC / ၁၂၀၄ / ၂၀၁၅။
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဇွန်လ၊ ( ၂ ) ရက်။

**အကြောင်းအရာ။** **ရန်ကုန်မြို့၊ စစ်တွေမြို့နယ်၊ကျေးပင်ကြီးရပ်ကွက်၊အကွက်အမှတ်(၃၉)၊ပန်လင်တော၊ ဦးပိုင်အမှတ်(က/၁၀၊ဆ/၁/၁၀)ရှိ မြေဧရိယာ(၀.၃၉၂)ဧကတွင် တည်ဆောက်မည့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန်ကိစ္စ။**

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၅ခုနှစ်၊ ဧပြီလ(၂၉)ရက် နေ့စွဲပါ စာအမှတ်၊ ရက-၃/န-၁၂၀၀/၂၀၁၅ (၅၈၇)

၁။ အထက်ဖော်ပြပါအကြောင်းအရာကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ သက်ဆိုင်ရာ Inn Pauk Wa Co.,Ltd မှ ၂၀၁၅ခုနှစ်၊ မေလ(၁၄)ရက်စွဲဖြင့် ရန်ကုန်မြို့၊ စစ်တွေမြို့နယ်၊ကျေးပင်ကြီးရပ်ကွက်၊အကွက်အမှတ်(၃၉)၊ပန်လင်တော၊ ဦးပိုင်အမှတ်(က/၁၀၊ဆ/၁/၁၀)ရှိ မြေဧရိယာ(၀.၃၉၂)ဧကတွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် အဆောက်အဦနှင့် ပက်သက်သောပုံစံများနှင့် အသေးစိတ်ဇယားများကို လိုအပ်သော လမ်းညွှန်ချက်များပေးပါရန် တင်ပြခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင်ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ ယင်းကိစ္စနှင့်ပက်သက်၍ (၁၈-၅-၂၀၁၅)ရက်နေ့မှ (၁-၆-၂၀၁၅) ရက်နေ့အထိ Foundation အပိုင်း၊ Structure အပိုင်း၊ အဆောက်အဦ အတွက်အသုံးပြုမည့် ဆောက်လုပ်ရေးပစ္စည်းများကို စိစစ်သုံးသပ်ခဲ့ပါသည်။

၃။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee အနေဖြင့် စစ်တွေမြို့တွင် တည်ဆောက်မည့် ဟိုတယ်အဆောက်အဦတည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေး ပစ္စည်းများအသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

၄။ အဆောက်အဦအပိုင်းတွင် အဓိကဆောက်လုပ်ရေးပစ္စည်းများဖြစ်သော Structural Steel ကို ပြည်ပမှတင်သွင်းခြင်းမပြုဘဲ ပြည်တွင်းမှသာဝယ်ယူ၍ ဆောက်လုပ်မည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

၅။ အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် အောက်ဖော်ပြပါ ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ထောက်ခံတင်ပြအပ်ပါသည်။

| စဉ် | ပစ္စည်းအမျိုးအမည် | MIC စာအုပ်ပါ အရေအတွက် (Ton) | BQ တွင်ပါဝင်သော အရေအတွက် (Ton) | ထောက်ခံတင်ပြသော အရေအတွက်(Ton) |
|---|---|---|---|---|
| ၁။ | Cement | ၅၅၀၀ | ၆၅၄၉ | ၂၀၈၂ |
| ၂။ | Rebar | ၇၂၀ | ၈၁၇ | ၇၂၀ |
| ၃။ | Paint | ၂၅၀၀ Gal | ၄၀၀၀ Gal | ၁၂၇၄ Gal |

Gal = ဂါလံ

မှတ်ချက်။ ။(၁) ယခုတင်ပြသောစီမံကိန်းစိစစ်ရာတွင် တင်ပြသောပုံစံ၊ဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ်တည်ဆောက်မည့် ပုံစံ၊ဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသောပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့်အရေအတွက်နှင့် ကွာခြားနိုင်ပါသည်။ သို့အတွက် လိုအပ်ပါက Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါသည်။ (Subject to Check)

(၂) သက်ဆိုင်ရာမီးသတ်ဦးစီးဌာနမှချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်းလိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(ဝင်းခိုင်)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

**မိတ္တူကို** – Managing Director, Inn Pauk Wa Co.,Ltd

– ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
– အတွင်းရေးမှူး၊ MIC Projects Assessment Committee
– ရုံးလက်ခံ / မျှောစာတွဲ






# INN PAUK WA COMPANY LIMITED

GENERAL TRADING & TRASNPORTATION SERVICE

*Main Off:*
No. (1), Min Gyi Kyauk Tan Road,
Min Gyi Quarter, Sittway Township,
Rakhine State, Myanmar.
Ph : 95-43-23660, 23119, 23886

*Branch Off:*
No. 26, 43rd Street, Botataung T/S Yangon, Myanmar.
Ph : 01-202540, 298943, 703931 Fax : 095-1-202587
E-mail : innpaukwa@myanmar.com.mm
: IPW_STW@mptmail.net.mm

---

သို့/-

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီး။

ရက်စွဲ။ ။ ၂၀၁၅ ခုနှစ်၊ ဇွန်လ (၃၀)ရက်။

အကြောင်းအရာ ။ ။ <u>လိုအပ်ချက်များ ပြင်ဆင်ပြီး၍ ပြန်လည်ပေးပို့တင်ပြခြင်း။</u>

၁။ ကျွန်တော်များ “ **INN PAUK WA COMPANY LIMITED** ” သည် ကုမ္ပဏီအမည်ပေါက် ပိုင်ဆိုင်သော ရခိုင်ပြည်နယ်၊ စစ်တွေမြို့ ကျေးပင်ကြီးရပ်ကွက်၊ အကွက်အမှတ်(၃၉)၊ ပန်လင်တောအကွက်၊ ဦးပိုင်အမှတ် (က/၁၁၊ ဆ/၁/၁၀) ဟုခေါ် တွင်သော မြေဧရိယာ(၀. ၃၉၂) ဧကအကျယ်အဝန်းရှိသော မြေနေရာတွင် ကြယ်သုံးပွင့်အဆင့်ရှိ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ရေးအတွက် အဆိုပြုတင်ပြထားပါသည်။

၂။ ထိုသို့တင်ပြထားရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ညွှန်ကြားချက်များအရ လိုအပ်ချက်များကို ပြင်ဆင်ပြီး၍ ပြန်လည်ပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးဦးဘိုးသိန်း
ကမကထပြုသူ
အင်းပေါက်ဝ ကုမ္ပဏီ လီမိတက်
**INN PAUK WA COMPANY LIMITED**



# INN PAUK WA COMPANY LIMITED

GENERAL TRADING & TRASNPORTATION SERVICE

*Main Off:*
No. (1), Min Gyi Kyauk Tan Road,
Min Gyi Quarter, Sittway Township,
Rakhine State, Myanmar.
Ph : 95-43-23660, 23119, 23886

*Branch Off:*
No. 26, 43rd Street, Botataung T/S Yangon, Myanmar.
Ph : 01-202540, 298943, 703931 Fax : 095-1-202587
E-mail : innpaukwa@myanmar.com.mm
: IPW_STW@mptmail.net.mm

---

သို့/-

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီး။

ရက်စွဲ။ ။ ၂၀၁၅ ခုနှစ်၊ ဇွန်လ ( ၁၆ )ရက်။

အကြောင်းအရာ ။ ။ <u>ဟိုတယ်နှင့် တည်းခိုရိပ်သာ လုပ်ငန်းလိုင်စင်ဆိုင်ရာအမိန့်များ ပါဝင်သော ဥပဒေအမိန့်များကို ကြိုတင်လေ့လာ၍ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြခြင်း။</u>

ရည်ညွှန်းချက် ။ ။ <u>ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၏</u> (၂၂. ၅. ၂၀၁၅) ရက်စွဲပါစာအမှတ်၊ ၁၈. ၈. ၂၀၁၅/(၂)/နပတ (၁၇၀၆)

၁။ ကျွန်တော်များ **" INN PAUK WA COMPANY LIMITED "** သည် ရခိုင်ပြည်နယ်၊ စစ်တွေမြို့ ကျေးပင်ကြီးရပ်ကွက်၊ အကွက်အမှတ်(၃၉)၊ ပန်လင်တောအကွက်၊ ဦးပိုင်အမှတ် (က/၁၁၊ ဆ/၁/၁၀) ဟုခေါ် တွင်သော မြေဧရိယာ(၀. ၃၉၂) ဧကအကျယ်အဝန်းရှိသော မြေနေရာတွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်လုပ်ငန်း (ကြယ်သုံးပွင့်) ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ထိုသို့တင်ပြထားရာတွင် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များအရ ဟိုတယ်တည်ဆောက်ရေး၊ အခန်းများဖွဲ့စည်းရေးနှင့် လိုအပ်သော **Facilities** များ ထည့်သွင်းရေးအတွက် မြန်မာနိုင်ငံဟိုတယ်နှင့် ခရီးသွားလာရေးဥပဒေ၊ မြန်မာနိုင်ငံ ခရီးသွားလာရေး ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ၊ ဟိုတယ်နှင့်တည်းခိုရိပ်သာ လုပ်ငန်း လုပ်ငန်းလိုင်စင်ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ၊ ဟိုတယ်နှင့်တည်းခိုရိပ်သာ လုပ်ငန်းလိုင်စင်ဆိုင်ရာအမိန့်များပါဝင်သော ဟိုတယ်တည်




# INN PAUK WA COMPANY LIMITED

GENERAL TRADING & TRASNPORTATION SERVICE

*Main Off:*
No. (I), Min Gyi Kyauk Tan Road,
Min Gyi Quarter, Sittway Township,
Rakhine State, Myanmar.
Ph : 95-43-23660, 23119, 23886

*Branch Off:*
No. 26, 43rd Street, Botataung T/S Yangon, Myanmar.
Ph : 01-202540, 298943, 703931 Fax : 095-1-202587
E-mail : innpaukwa@myanmar.com.mm
: IPW_STW@mptmail.net.mm

ဆောက်ရေးဆိုင်ရာ အခြေခံလိုအပ်ချက်နှင့် စံနှုန်းများ (**Basic Requirements and Criterid**) ထက်မနိမ့်ကျစေရန်အတွက် အဆိုပါဥပဒေအမိန့်များကို ကြိုတင်ရယူလေ့လာ၍ ဆောင်ရွက် သွားမည် ဖြစ်ပါကြောင်းဝန်ခံကတိပြုတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးဦးဘိုးသိန်း
ကမကထပြုသူ
အင်းပေါက်ဝ ကုမ္ပဏီ လီမိတက်
**INN PAUK WA COMPANY LIMITED**



# INN PAUK WA COMPANY LIMITED

GENERAL TRADING & TRASNPORTATION SERVICE

*Main Off:*
No. (1), Min Gyi Kyauk Tan Road,
Min Gyi Quarter, Sittway Township,
Rakhine State, Myanmar.
Ph : 95-43-23660, 23119, 23886

*Branch Off:*
No. 26, 43rd Street, Botataung T/S Yangon, Myanmar.
Ph : 01-202540, 298943, 703931 Fax : 095-1-202587
E-mail : innpaukwa@myanmar.com.mm
: IPW_STW@mptmail.net.mm

သို့/-

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီး။

ရက်စွဲ။ ။ ၂၀၁၅ ခုနှစ်၊ ဇွန်လ ( ၁၆ )ရက်။

အကြောင်းအရာ ။ ။ <u>ဟိုတယ်နှင့် ခရီးသွားလာရေးဥပဒေနှင့်အညီ ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုမိန့် လျှောက်ထားရယူမည် ဖြစ်ကြောင်းတင်ပြခြင်း။</u>

ရည်ညွှန်းချက် ။ ။ **<u>ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၏</u> (၂၂. ၅. ၂၀၁၅) ရက်စွဲပါစာအမှတ်၊ ၁၈. ၈. ၂၀၁၅/(၂)/နပတ (၁၇၀၆)**

၁။ ကျွန်တော်များ **" INN PAUK WA COMPANY LIMITED "** သည် ရခိုင်ပြည်နယ်၊ စစ်တွေမြို့ ကျေးပင်ကြီးရပ်ကွက်၊ အကွက်အမှတ်(၃၉)၊ ပန်လင်တောအကွက်၊ ဦးပိုင်အမှတ် (က/၁၁၊ ဆ/၁/၁၀) ဟုခေါ် တွင်သော မြေဧရိယာ(၀. ၃၉၂) ဧကအကျယ်အဝန်းရှိသော မြေနေရာတွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်လုပ်ငန်း (ကြယ်သုံးပွင့်) ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ထိုသို့တင်ပြထားရာတွင် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များအရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ရရှိပြီးပါက မြန်မာနိုင်ငံဟိုတယ်နှင့် ခရီးသွားလာရေးဥပဒေနှင့်အညီ ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုမိန့် ရယူမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

**လေးစားစွာဖြင့်**

**ဦးဦးဘိုးသိန်း**
ကမကထပြုသူ
အင်းပေါက်ဝ ကုမ္ပဏီ လီမိတက်
**INN PAUK WA COMPANY LIMITED**



# INN PAUK WA COMPANY LIMITED

GENERAL TRADING & TRASNPORTATION SERVICE

*Main Off:*
No. (1), Min Gyi Kyauk Tan Road,
Min Gyi Quarter, Sittway Township,
Rakhine State, Myanmar.
Ph : 95-43-23660, 23119, 23886

*Branch Off:*
No. 26, 43rd Street, Botataung T/S Yangon, Myanmar.
Ph : 01-202540, 298943, 703931 Fax : 095-1-202587
E-mail : innpaukwa@myanmar.com.mm
: IPW_STW@mptmail.net.mm

သို့/-

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီး။

ရက်စွဲ။ ။ ၂၀၁၅ ခုနှစ်၊ ဇွန်လ ( ၁၆ )ရက်။

အကြောင်းအရာ ။ ။ **သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအတွက် စီမံဆောင်ရွက်ထားရှိမှုများအား တင်ပြခြင်း။**

၁။ ကျွန်တော်များ **"INN PAUK WA COMPANY LIMITED"** သည် ရခိုင်ပြည်နယ်၊ စစ်တွေမြို့ ကျေးပင်ကြီးရပ်ကွက်၊ အကွက်အမှတ်(၃၉)၊ ပန်လင်တောအကွက်၊ ဦးပိုင်အမှတ် (က/၁၁၊ ဆ/၁/၁၀) ဟုခေါ်တွင်သော မြေဧရိယာ (၀. ၃၉၂) ဧကအကျယ်အဝန်းရှိသော မြေနေရာတွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်လုပ်ငန်း (ကြယ်သုံးပွင့်) ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကိုလျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ကုမ္ပဏီအနေဖြင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအတွက် အောက်ဖော်ပြပါကဏ္ဍများ အလိုက် စီမံဆောင်ရွက်ထားရှိမည် ဖြစ်ပါသည်။

(က) လုပ်ငန်းလည်ပတ်ခြင်းနှင့်ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး၊ ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် နည်းလမ်းများကို ထည့်သွင်းစီစဉ်ထားရှိမည် ဖြစ်ပါသည်။

(ခ) လုပ်ငန်းလည်ပတ်ခြင်းမှ ထွက်ရှိလာမည့်စွန့်ပစ်အရည်များကို Waste Water Treatment Plan ဖြင့် စွန့်ပစ်ရန်နှင့် ပတ်ဝန်းကျင်စိမ်းလန်းစိုပြေရေးနှင့် လေကောင်းလေသန့် ရရှိစေရေးအစီအမံများကို ဆောင်ရွက်ထားရှိမည် ဖြစ်ပါသည်။



# INN PAUK WA COMPANY LIMITED

GENERAL TRADING & TRASNPORTATION SERVICE

*Main Off:*
No. (1). Min Gyi Kyauk Tan Road,
Min Gyi Quarter, Sittway Township,
Rakhine State, Myanmar.
Ph : 95-43-23660, 23119, 23886

*Branch Off:*
No. 26, 43rd Street, Botataung T/S Yangon, Myanmar.
Ph : 01-202540, 298943, 703931 Fax : 095-1-202587
E-mail : innpaukwa@myanmar.com.mm
: IPW_STW@mptmail.net.mm

(ဂ) စီမံကိန်းလုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းအကောင်အထည်မဖော်မီ သဘာဝပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှု ရှိ/မရှိ ကြိုတင်ဆန်းစစ်လေ့လာခြင်း(Initial Environmental Examination - IEE) လုပ်ငန်းကို ဆောင်ရွက်ထားရှိမည်ဖြစ်ပါသည်။

၃။ ကျွန်တော်များ ကုမ္ပဏီသည် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအတွက် သဘာဝ ပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှု ရှိ/မရှိ ကြိုတင်ဆန်းစစ်လေ့လာခြင်း ( Initial Environmental Examination - IEE ) လုပ်ငန်းများ ဆောင်ရွက်သည့် အဖွဲ့အစည်းများနှင့်လည်း ဆက်သွယ်၍ လုပ်ငန်းများ ဆောင်ရွက်လျှက်ရှိကြောင်း ရှင်းလင်းတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးဦးဘိုးသိန်း
ကမကထပြုသူ
အင်းပေါက်ဝ ကုမ္ပဏီ လီမိတက်
**INN PAUK WA COMPANY LIMITED**




# INN PAUK WA COMPANY LIMITED

GENERAL TRADING & TRASNPORTATION SERVICE

*Main Off:*
No. (1), Min Gyi Kyauk Tan Road,
Min Gyi Quarter, Sittway Township,
Rakhine State, Myanmar.
Ph : 95-43-23660, 23119, 23886

*Branch Off:*
No. 26, 43rd Street, Botataung T/S Yangon, Myanmar.
Ph : 01-202540, 298943, 703931 Fax : 095-1-202587
E-mail : innpaukwa@myanmar.com.mm
: IPW_STW@mptmail.net.mm

---

သို့/-

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီး။

ရက်စွဲ။ ။ ၂၀၁၅ ခုနှစ်၊ ဇွန်လ ( ၁၆ )ရက်။

အကြောင်းအရာ ။ ။ <u>အလုပ်သမားများ၏ လစာဝင်ငွေပေါ်မှာ ပေးဆောင်ရမည့် ဝင်ငွေခွန်နှင့် ပတ်သက်၍ ဝန်ခံချက်တင်ပြခြင်း။</u>

ကျွန်တော်များ **" INN PAUK WA COMPANY LIMITED "** သည် ရခိုင်ပြည်နယ်၊ စစ်တွေမြို့၊ ကျေးပင်ကြီးရပ်ကွက်၊ အကွက်အမှတ်(၃၉)၊ ပန်လင်တောအကွက်၊ ဦးပိုင်အမှတ် (က/၁၁၊ ဆ/၁/၁၀) ဟုခေါ်တွင်သော မြေဧရိယာ (၀. ၃၉၂) ဧကအကျယ်အဝန်း ရှိသောမြေနေရာတွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်လုပ်ငန်း (ကြယ်သုံးပွင့်) ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

အဆိုပါ အဆိုပြုထားသောလုပ်ငန်းတွင် ခန့်အပ်မည့် အလုပ်သမားများ၏ (၁)နှစ်လစာ ကျပ် - ၂,၀၀၀,၀၀၀/- ( ကျပ်နှစ်ဆယ်သိန်းတိတိ ) အထက်ရှိသော အလုပ်သမားများအတွက် ဝင်ငွေခွန် ဥပဒေအရ သတ်မှတ်ထားသောလစာခွန်ကို ပေးဆောင်ပါမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးဦးဘိုးသိန်း
ကမကထပြုသူ
အင်းပေါက်ဝ ကုမ္ပဏီ လီမိတက်
**INN PAUK WA COMPANY LIMITED**

# အင်းပေါက်ဝ ကုမ္ပဏီ လီမိတက်

၏

## အဆိုပြုချက်

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

## INN PAUK WA COMPANY LIMITED



# INN PAUK WA COMPANY LIMITED
GENERAL TRADING & TRASNPORTATION SERVICE

*Main Off:*
No. (1), Min Gyi Kyauk Tan Road,
Min Gyi Quarter, Sittway Township,
Rakhine State, Myanmar.
Ph : 95-43-23660, 23119, 23886

*Branch Off:*
No. 26, 43rd Street, Botataung T/S Yangon, Myanmar.
Ph : 01-202540, 298943, 703931 Fax : 095-1-202587
E-mail : innpaukwa@myanmar.com.mm
: IPW_STW@mptmail.net.mm

သို့/-

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီး။

ရက်စွဲ။ ။ ၂၀၁၅ ခုနှစ်၊ ဇွန်လ ( ၁၆ )ရက်။

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၀အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ "**INN PAUK WA COMPANY LIMITED**"သည် ရခိုင်ပြည်နယ်၊ စစ်တွေမြို့၊ ကျေးပင်ကြီးရပ်ကွက်၊ အကွက်အမှတ်(၃၉)၊ ပန်လင်တောအကွက်၊ ဦးပိုင်အမှတ် (က/၁၁၊ ဆ/၁/၁၀) ဟုခေါ် တွင်သောမြေ (၀. ၃၉၂)ဧက အကျယ်အဝန်းရှိသောမြေနေရာတွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်လုပ်ငန်း (ကြယ်သုံးပွင့်) လုပ်ကိုင်ခွင့်ပြုပါရန် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၂။ အဆိုပြုတင်ပြသည့် လုပ်ငန်းဖြစ်သော ဟိုတယ်လုပ်ငန်း (ကြယ်သုံးပွင့်)အား ပြည်တွင်း၌ ဆောင်ရွက်မည် ဖြစ်ပါသည်။ ဟိုတယ်လုပ်ငန်းအတွက်ရင်းနှီးမြှုပ်နှံငွေ ပြည်တွင်းသုံးငွေကျပ် စုစုပေါင်း (၅,၃၃၈. ၂၆၃) သန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | | |
|---|---|---|
| (က) | ငွေသားတန်ဘိုး ကျပ် | (၅၀၀) သန်း၊ |
| (ခ ) | မြေကွက်တန်ဘိုး ပြည်တွင်းသုံးငွေကျပ် | (၁၀. ၇၉၇ ) သန်း |
| (ဂ ) | အဆောက်အဦးတန်ဘိုး ပြည်တွင်းသုံးငွေကျပ် | (၄၉၁. ၃၆၇ ) သန်း၊ |
| (ဃ) | အဆောက်အဦးသုံး ပစ္စည်းကိရိယာတန်ဘိုး | (၁,၃၁၅. ၁၈၉၅ ) သန်း၊ |
| (င ) | စက်ပစ္စည်းကရိယာကျပ်တန်ဘိုး ပြည်တွင်းသုံးငွေကျပ် | (၁,၁၁၂. ၄၅၀)သန်း |
| (စ ) | လျှပ်စစ်ပစ္စည်းများတန်ဘိုး ပြည်တွင်းသုံးငွေကျပ် | (၁,၅၄၉. ၆၈၈) သန်း |
| (ဆ) | မော်တော်ကားများတန်ဘိုး ပြည်တွင်းသုံးငွေကျပ် | (၁၃၇. ၇၅၀ ) သန်း |
| (ဇ ) | ပရိဘောဂများတန်ဘိုး ပြည်တွင်းသုံးငွေကျပ် | (၂၂၀. ၀၂၀ )သန်း |

တို့ဖြင့် ထည့်ဝင်ရင်းနှီးမည် ဖြစ်ပါသည်။



# INN PAUK WA COMPANY LIMITED

GENERAL TRADING & TRASNPORTATION SERVICE

*Main Off:*
No. (1), Min Gyi Kyauk Tan Road,
Min Gyi Quarter, Sittway Township,
Rakhine State, Myanmar.
Ph : 95-43-23660, 23119, 23886

*Branch Off:*
No. 26, 43rd Street, Botataung T/S Yangon, Myanmar.
Ph : 01-202540, 298943, 703931 Fax : 095-1-202587
E-mail : innpaukwa@myanmar.com.mm
: IPW_STW@mptmail.net.mm

---

၃။ အဆိုပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့်မြန်မာ နိုင်ငံသားများအတွက် အလုပ်အကိုင် အသစ် များပေါ်ပေါက်လာမည်ဖြစ်ပြီး နိုင်ငံခြားဝင်ငွေများလည်းရရှိကာ နိုင်ငံ၏ ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းတွင် ဖွံ့ဖြိုးတိုးတက်လာနိုင်မည်ဖြစ်ပါသည်။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက် လည်းကောင်း၊ နိုင်ငံခြားငွေများရရှိနိုင်ရန် အတွက်လည်းကောင်း မြန်မာနိုင်ငံသားများ အလုပ်အကိုင်သစ်များ ပေါ်ပေါက်ရရှိစေရန်အတွက် လည်းကောင်း၊ မြန်မာနိုင်ငံ၏ စီးပွားရေးဖွံ့ဖြိုး တိုးတက်စေရန်အတွက်လည်းကောင်း၊ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်စေရန်လည်းကောင်း၊ ကျွန်တော်များ လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့် တို့ကိုလည်း ခံစားခွင့်ပြုပါရန်လျှောက်ထားအပ်ပါသည်။ ဤလျှောက်လွှာနှင့် အတူအောက် ဖော်ပြပါအထောက်အထား စာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်းမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုလုပ်သူ၏ လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုချက်၊

(ခ) ဘဏ္ဍာရေး အချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ၊

(ဂ) မြေနှင့် အဆောက်အဦးဝယ်ယူထားရှိခြင်း သဘောတူစာချုပ် ( မူကြမ်း )၊

(ဃ) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်း၊ ကုမ္ပဏီမှတ်ပုံတင်ထားပြီးဖြစ်ကြောင်း အထောက်အထားများ။

လေးစားစွာဖြင့်-

ဦးဦးဘိုးသိန်း
ကမကထပြုသူ
အင်းပေါက်ဝ ကုမ္ပဏီ လီမိတက်
**INN PAUK WA COMPANY LIMITED**



# INN PAUK WA COMPANY LIMITED

GENERAL TRADING & TRASNPORTATION SERVICE

*Main Off:*
No. (1), Min Gyi Kyauk Tan Road,
Min Gyi Quarter, Sittway Township,
Rakhine State, Myanmar.
Ph : 95-43-23660, 23119, 23886

*Branch Off:*
No. 26, 43rd Street, Botataung T/S Yangon, Myanmar.
Ph : 01-202540, 298943, 703931 Fax : 095-1-202587
E-mail : innpaukwa@myanmar.com.mm
: IPW_STW@mptmail.net.mm

သို့/-

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီး။

ရက်စွဲ။ ။ ၂၀၁၅ ခုနှစ်၊ ဇွန်လ ( ၁၆ )ရက်။

အကြောင်းအရာ ။ ။<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက် တင်ပြခြင်း။</u>

အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံတွင် တရားဝင်ဖွဲ့စည်း တည်ထောင်ထားသော **" INN PAUK WA COMPANY LIMITED "** သည် နိုင်ငံတကာအဆင့်မီ ဟိုတယ်လုပ်ငန်း (ကြယ်သုံးပွင့်) ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားခြင်း ဖြစ်ပါသည်။ ထိုသို့လျှောက်ထားရာတွင် ခွင့်ပြုမိန့်ရရှိနိုင်ရေးအတွက် အောက်ပါတို့ကို ဝန်ခံကတိပြုပါသည်။

( က ) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း ဝန်ခံကတိပြုပါသည်။

( ခ ) နိုင်ငံတော်အစိုးရ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်း သတ်မှတ်ချက်များကိုလိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း ကတိပြုပါသည်။

( ဂ ) ထိုအပြင် ကျွန်တော်တို့ ကုမ္ပဏီ အနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင် ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက်လိုအပ်သော အစီအမံများ ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည် ဖြစ်ကြောင်း နှင့် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ နည်းဥပဒေ စည်းမျဉ်းစည်းကမ်း ၊ လုပ်ထုံးလုပ်နည်းများနှင့် အညီပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဟုဝန်ခံကတိပြုပါသည်။



# INN PAUK WA COMPANY LIMITED
GENERAL TRADING & TRASNPORTATION SERVICE

*Main Off:*
No. (1), Min Gyi Kyauk Tan Road,
Min Gyi Quarter, Sittway Township,
Rakhine State, Myanmar.
Ph : 95-43-23660, 23119, 23886

*Branch Off:*
No. 26, 43rd Street, Botataung T/S Yangon, Myanmar.
Ph : 01-202540, 298943, 703931 Fax : 095-1-202587
E-mail : innpaukwa@myanmar.com.mm
: IPW_STW@mptmail.net.mm

( ဃ ) မီးဘေး ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

( င ) **"INN PAUK WA COMPANY LIMITED"** မှရရှိလာသော ဝင်ငွေများကို မြန်မာနိုင်ငံခြားကုန်သွယ်မှုဘဏ်၊ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေး ဘဏ်ရှိ ငွေစာရင်းသို့ မပျက်မကွက်ပေးသွင်းမည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

( စ ) **"INN PAUK WA COMPANY LIMITED"** အနေဖြင့် ပုဂ္ဂလိကစက်မှု လုပ်ငန်းဥပဒေအရ ပြည်နယ်/တိုင်းဒေသကြီးရ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ညွှန်ကြားမှုဦးစီးဌာနတွင် မှတ်ပုံတင်ထားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဆ) အမျိုးသားယဉ်ကျေးမှုနှင့် ပတ်သက်၍ထိန်းသိမ်းသွားနိုင်ရေးအတွက် သက်ဆိုင်ရာဌာန/အဖွဲ့အစည်းအသီးသီးမှ ညွှန်ကြားချက်များကို သိရှိလိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

**လေးစားစွာဖြင့်-**

**ဦးဦးဘိုးသိန်း**
ကမကထပြုသူ
အင်းပေါက်ဝ ကုမ္ပဏီ လီမိတက်
**INN PAUK WA COMPANY LIMITED**

